အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် CM Japan Agri Myanmar Co.,Ltd. တည်ထောင်၍ ဟင်းသီးဟင်းရွက်နှင့် သစ်သီးဝလံများ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - CM Japan Agri Myanmar Co.,Ltd.<br>- U Soe Moe Thu |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- City Mart Holding Co.,Ltd. (Myanmar) 60%<br>- Megumi No Sato Co., Ltd. (Japan) 40% |
| ၃။ | လုပ်ငန်းအမျိုးအစား | - ဟင်းသီးဟင်းရွက် နှင့် သစ်သီးဝလံများ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၄။ | တည်နေရာ | - မန္တလေးတိုင်းဒေသကြီး၊ ပြင်ဦးလွင်မြို့နယ်၊ ကျွဲနွားထောက်ကျေးရွာ၊ အကွက်အမှတ် ၇၀၆၊ အမှတ် ၃၅၀ |
| | မြေဧရိယာ | - ၅.၅ ဧက (၂၂၂၅၇.၇၃ စတုရန်းမီတာ) |
| | မြေပိုင်ရှင် | - ဦးညီညီတုတ် |
| ၅။ | နှစ်စဉ်မြေငှားရမ်းခနှုန်းထား | - တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ ၃၀,၀၀၀.၀၀<br>- တစ်နှစ် တစ်စတုရန်းမီတာ အမေရိကန်ဒေါ်လာ ၁.၃၄၇ နှုန်း |
| ၆။ | လုပ်ငန်းသက်တမ်း | - ၅၀နှစ် |
| ၇။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၁.၂၅၀ သန်း |

ထည့်ဝင်သည့် အမျိုးအစား:

| | City Mart Holding Co.,Ltd. (US$)သန်း | Megumi No Sato Co., Ltd. (US$)သန်း | စုစုပေါင်း (US$)သန်း |
|---|---|---|---|
| ငွေသား | ၀.၄၉၀ | ၀.၂၆၄ | ၀.၇၅၄ |
| စက်နှင့် စက်ပစ္စည်း | | ၀.၁၅၇ | ၀.၁၅၇ |
| Value of Building | | ၀.၀၇၉ | ၀.၀၇၉ |
| Value of Motor vehicles | ၀.၂၆၀ | | ၀.၂၆၀ |
| **စုစုပေါင်း** | ၀.၇၅၀ | ၀.၅၀၀ | ၁.၂၅၀ |

| | | |
|---|---|---|
| ၈။ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၉။ | ကုမ္ပဏီ၏ဝင်ငွေပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) | - အမေရိကန်ဒေါ်လာ ၀.၄၀၅ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ်ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်) | - အမေရိကန်ဒေါ်လာ ၀.၂၀၄ သန်း |

| | | |
|---|---|---|
| ၁၀။ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ်<br>ဝင်ငွေခွန် | - အမေရိကန်ဒေါ်လာ ၀.၀၆၈ သန်း |
| ၁၁။ | အရင်းကြေကာလ | - ၅ နှစ် ၁၁လ |
| ၁၂။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၂၁.၄၉ % |
| ၁၃။ | ရောင်းချမည့် စနစ် | - ပြည်တွင်း ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ |
| ၁၄။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br>ပြည်ပ | - ၂၆ ယောက်<br>- ၂၂ ဦး (ဝန်ထမ်း၏ အနိမ့်ဆုံးလစာမှာ ကျပ် ၉၃,၅၀၀နှင့် အမြင့်ဆုံးလစာမှာ ၁၇၀,၀၀၀ကျပ်ဖြစ်ပါသည်။)<br>- ၄ ဦး (ဝန်ထမ်း၏ လစာမှာ အမေရိကန်ဒေါ်လာ ၁,၃၀၀ ဖြစ်ပါသည်။ ) |
| ၁၅။ | လျှပ်စစ်ဓာတ်အားသုံးစွဲမှု | - ၃၀၅ KVA |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကာ-၆(ခ)/နှ-၈၁၁/၂၀၁၃(၈၂၇၆)

ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဩဂုတ်လ ၇၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် CM Japan Agri Myanmar Co.,Ltd. တည်ထောင်၍ ဟင်းသီးဟင်းရွက်နှင့် သစ်သီးဝလံများ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ City Mart Holdings Co.,Ltd. မှ ၆၀ % နှင့် ဂျပန်နိုင်ငံ Megumi No Sato Co., Ltd. မှ ၄၀ % ထည့်ဝင်၍ CM Japan Agri Myanmar Co.,Ltd. အမည်ဖြင့် မန္တလေးတိုင်းဒေသကြီး၊ ပြင်ဦးလွင်မြို့နယ်၊ ကျွဲနွားထောက်ကျေးရွာ၊ အမှတ် ၃၅၀၊ အကွက် အမှတ် ၇၀၆ ရှိ မြေဧရိယာ ၅.၅ ဧကတွင် ဟင်းသီးဟင်းရွက်နှင့် သစ်သီးဝလံများစိုက်ပျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့် အတူ City Mart Holdings Co.,Ltd. နှင့် Megumi No Sato Co., Ltd တို့ချုပ်ဆိုမည့် Joint Venture Agreement စာချုပ် (မူကြမ်း) ၊ မြေပိုင်ရှင် U Nyo Toke နှင့် CM Japan Agri Myanmar Co.,Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)နှင့် အတူ လုပ်ငန်း တည်နေရာ ပြပုံများကိုတင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ ၅.၅ ဧက (၂၂၂၅၇.၇၃ စတုရန်းမီတာ)အတွက် တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ ၃၀,၀၀၀.၀၀ နှင့် တစ်နှစ် တစ်စတုရန်းမီတာ အမေရိကန် ဒေါ်လာ ၁.၃၄၇ နှုန်း တင်ပြထားပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ (၅၀) နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလ (၁)နှစ်ဖြစ် ကြောင်းနှင့် ကော်မရှင်ခွင့်ပြုမိန့် လက်ခံရရှိပြီး တည်ဆောက်မည်ဖြစ်ကြောင်း ဖော်ပြထား ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏ US$ ၁.၂၅၀ သန်း တွင် ငွေသား US$ ၀.၇၅၄ သန်း၊ စက်နှင့် စက်ပစ္စည်းတန်ဖိုး US$ ၀.၁၅၇ သန်း၊ အဆောက်အဦတန်ဖိုး US$ ၀.၀၇၉ သန်း နှင့် မော်တော်ကားတန်ဖိုး US$ ၀.၂၆၀ သန်း ပါဝင်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၂၂ ဦးနှင့် ပြည်ပမှ ၄ ဦး၊ စုစုပေါင်း၂၆ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း အမြင့်ဆုံးလစာမှာ ကျပ် ၁၇၀,၀၀၀ နှင့် အနိမ့်ဆုံး လစာမှာ ကျပ် ၉၃,၅၀၀ ဖြစ်ပြီး နိုင်ငံခြားသားဝန်ထမ်း၏ လစာမှာ US$ ၁,၃၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ပြည်တွင်း ၁၀၀% ရောင်းချမည်ဖြစ်သည်။ ကုမ္ပဏီမှ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါ အတိုင်းဖြစ် ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု ပြည်တွင်း | ရောင်းဈေးနှုန်း ပြည်တွင်း (US$) |
|---|---|---|---|
| (က) | Aparagus (Pack) | ၆,၂၂၀ | ၃.၈၄ |
| (ခ) | Carrots (Bag) | ၅,၁၈၄ | ၂.၆၉ |
| (ဂ) | Cauliflower (Pcs) | ၆,၂၂၀ | ၂.၆၉ |
| (ဃ) | Lettuce (Pack) | ၁၈,၆၆၂ | ၁.၉၂ |
| (င) | Strawberries(Punnet) | ၃၇,၃၂၅ | ၈.၄၅ |
| | **စုစုပေါင်း** | **၇၃,၆၁၁** | |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုး အမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၀.၄၀၅ |
| (ခ) | အသုံးစရိတ် | ၀.၂၀၁ |
| (ဂ) | အသားတင်အမြတ် | ၀.၂၀၄ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၀.၀၆၈သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ် နှင့် (၁၁)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR မှာ ၂၁.၄၉ % ဖြစ်ပါသည်။ တစ်ဒေါ်လာလျှင် ကျပ် ၈၅၀ နှုန်း ဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား လာပါသည်-

(က) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ စိုက်ပျိုးရေး လုပ်ငန်း စဉ်များနှင့် သိုလှောင်ရောင်းချခြင်းလုပ်ငန်းစဉ် အဆင့်ဆင့် တို့အတွက်

စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းများထည့်သွင်းဆောင်ရွက် ရန်လိုကြောင်း၊ ဓာတုပိုးသတ်ဆေးများအစား ဇီဝပိုးသတ်ဆေး (Bio-pesticide) နှင့် ဇီဝမြေဩဇာ (Biofertillizer)၊ Green manuringများ အသုံးပြုရန်လိုကြောင်း၊ ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းအကောင်အထည်မဖော်မီ သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု ရှိ-မရှိ ကြိုတင်ဆန်းစစ်လေ့လာခြင်း (Initial Environmental Examination-IEE) လုပ်ငန်းကို ဆောင်ရွက်ရန်လိုကြောင်းနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (Environmantal Management Plan-EMP) ရေးဆွဲတင်ပြရန်၊ နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာမူဝါဒ၊ ပတ်ဝန်းကျင်ထိန်း သိမ်းရေးဥပဒေတို့နှင့် အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန် သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက်တင်ပြထားပါသည်။** **နောက်ဆက်တွဲ-(က)**

(ခ) **လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ ဟင်းသီးဟင်းရွက်နှင့် သစ်သီးဝလံများ စိုက်ပျိုးရေးနည်းပညာများ၊ မျိုးအမယ်အသစ်များ ရရှိနိုင်ခြင်း၊ ဒေသခံများ ဝင်ငွေတိုးမြှင့်လာစေခြင်း စသည့် အကျိုးကျေးဇူးများရရှိမည် ဖြစ်ပါသဖြင့် ဆောင်ရွက်ရန်သင့်လျော်မှုရှိပါကြောင်း၊ လက်ရှိမြေပြင်တွင် စိုက်ပျိုးလုပ်ကိုင်နေသူများမှ လုပ်ငန်း ဆောင်ရွက်မည်ဆိုပါက ၎င်းတို့ လက်ရှိ အသုံးပြုလျှက်ရှိသော ဧရိယာ (၃.၇၈) ဧက ကိုသာ လယ်ယာ မြေအဖြစ်အသုံးပြုထားသဖြင့် ၂၀၁၂ ခုနှစ်၊ လယ်ယာမြေဥပဒေအရ လယ်ယာမြေ လုပ်ပိုင်ခွင့် လက်မှတ်ရရှိအောင်ဆောင်ရွက်ပြီးမှ လယ်ယာ မြေဥပဒေနှင့် အညီ ဆောင်ရွက်နိုင်ပါ ကြောင်းသဘောထားပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက် တင်ပြထားပါသည်။** **နောက်ဆက်တွဲ-(ခ)**

(ဂ) မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့သို့ သဘောထားမှတ်ချက် တောင်းခံထားပါသည်။

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ်City Mart Holding Co., Ltd. သည် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေး ဘဏ်တွင် (၁၅-၁၁-၂၀၁၂) နေ့စွဲဖြင့် အမေရိကန်ဒေါ်လာ ၉၀၇,၇၈၁ ရှိကြောင်း နှင့် Megumi no Sato Co., Ltd.သည် The Bank

of Tokyo-Misubishi UFJ တွင် (၃၁-၃-၂၀၁၃) ရက်စွဲဖြင့် ဂျပန်ယမ်း ၅၀,၀၀၀,၀၀၀ ( အမေရိကန်ဒေါ်လာ ၅၀၀,၆၉၉.၉၇) ရှိကြောင်း ထောက်ခံတင်ပြထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်း၏ သဘောသဘာဝ၊ လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့် အစီအစဉ် (ပုံမှန်လျှပ်စစ်ဓါတ်အားများ သုံးစွဲခြင်းအပြင် လိုအပ်ပါ က ၃၁၅ KVA Transformer ကိုပါအားဖြည့်သုံး စွဲမည်ဖြစ် ပါသည်)၊ မီးဘေးကြို တင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်းနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက် အစီအစဉ်များကို တင်ပြထားပါ သည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၂)အပိုဒ် (၂၇)ပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၁/၂၀၁၃ဖြင့် ထုတ်ပြန်ထားသည့် နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများစာရင်းတွင် ပါဝင်ပါသည်။

၁၅။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ပုဂ္ဂလိကမြေတွင်ငှားရမ်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့၏ ၂၀၁၃ ခုနှစ် မေလ ၃၀ ရက်၊ အစည်းအဝေးအမှတ်စဉ် (၁၉/၂၀၁၃) မှ သဘောတူထားပါသည်။

၁၆။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် CM Japan Agri Myanmar Co.,Ltd. တည်ထောင်၍ ဟင်းသီးဟင်းရွက်နှင့် သစ်သီးဝလံများ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းအပေါ် လမ်းညွှန်မှုခံယူအပ်ပါသည်။

ဥက္ကဌ(ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| ၁။ | **CM Japan Agri Myanmar Co.,Ltd.** | **City Mart Holdings Co.,Ltd.(60 %)**<br>Myanmar<br>Represented by-<br>(၁) U Soe Moe Thu<br>Director<br>Myanmar<br>12/SaKhaNa(N)021426 | <br><br><br>Room No.647/8-D, Mya Kan Tha (1)Street, No. (2) Ward, Kamayut Township, Yangon Region |
| | | **Megumi no Sato Co., Ltd.( 40 %)**<br>Japan<br>Represented by-<br>(၂) U Tin Aung Latt<br>Director<br>Myanmar<br>14/Ha Ta Da (Ei)000043 | <br><br><br>H-24,Padauk Street, Bayin Naung Broker' Sales Center Ward (1) Mayangone Township, Yangon |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် -

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - ရပ်ကွက်(၁)၊ ပိတောက်လမ်း၊ ဘုရင့်နောင်ပွဲစားတန်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးတင်အောင်လတ် ၊ ဒါရိုက်တာ

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ဆန်အမျိုးအစားခွဲခြင်း၊ ဆန်ပေါင်းတင်ခြင်းနှင့် ဆန်အရောင်တင်ခြင်းတို့ အပါအဝင် ဆန် စပါးကြိတ်ခွဲ ပြုပြင်သည့်ဆန်စက်နှင့် အခြား စိုက်ပျိုးရေး လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် -